ကုမ္ပဏီအမည် - Inno Packaging Co., Ltd.

လုပ်ငန်း - စက္ကူဘူးအမျိုးမျိုးနှင့် ထုတ်ပိုးပစ္စည်းများ (တိပ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၄-၂-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၅-၃-၂၀၁၅ | ၃-၄-၂၀၁၅ | |
| | ( ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၅-၃-၂၀၁၅ | ၂၃-၄-၂၀၁၅ | |
| | ( ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၂၅-၃-၂၀၁၅ | ၂၂-၄-၂၀၁၅ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၂၅-၃-၂၀၁၅ | ၂၄-၄-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၉/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | ၃-၃-၂၀၁၅ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၉/၂၀၁၅) ဆုံးဖြတ်ချက်အရပြန်လည် တင်ပြရန်ပေးပို့ခြင်းနှင့်လက်ခံကြောင်းစာပေး ပို့ခြင်း | ၁၀-၃-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်ပြီးပြန်လည် တင်ပြခြင်း | | **၁၅-၅-၂၀၁၅** | |
| | **စုစုပေါင်းကြာမြင့်ရက် ၈၂ ရက်** | | | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် INNO Packaging Co., Ltd. တည် ထောင်ကာ စက္ကူဘူး အမျိုးမျိုးနှင့် ထုတ်ပိုးပစ္စည်းများ (တိပ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - INNO Packaging Co., Ltd. | | |
| | | - Mr. Son, Seog Chang (Korea) | | |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု | | |
| | | - INNO International Co., Ltd. (Korea) ၉၅ % | | |
| | | - ထက်မျိုးဆွေကုမ္ပဏီလီမိတက် (မြန်မာ) ၅ % | | |
| | လုပ်ငန်းအမျိုးအစား | - စက္ကူဘူးအမျိုးမျိုးနှင့် ထုတ်ပိုးပစ္စည်းများ (တိပ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း | | |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၁၉၊အမှတ်-၁လမ်း၊ပျဉ်းမပင်စက်မှုဇုန်နယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | | |
| | မြေဧရိယာ | ၆.၁၇၉ဧက (၂၄,၉၈၃ စတုရန်းမီတာ) | | |
| | | အဆောက်အဦပါမြေ ၂,၀၈၆ စတုရန်းမီတာ | | |
| | | အဆောက်အဦမပါမြေ ၂၂,၈၉၇ စတုရန်းမီတာ | | |
| | မြေပိုင်ရှင် | - မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် | | |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခ | - နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခ အမေရိကန်ဒေါ်လာ ၁၄၅,၇၇၅ | | |
| | | - အဆောက်အဦပါ မြေတစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅ နှုန်း | | |
| | | - အဆောက်အဦ မပါသောမြေတစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန် ဒေါ်လာ ၅ နှုန်း | | |
| | မြေငှားသက်တမ်း | - ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ် | | |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ် | | |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် | | |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၂.၁ သန်း | | |
| | ထည့်ဝင်သည့် အမျိုးအစား | - **US$ (သန်း)** | | |
| | | **နိုင်ငံခြား** | **နိုင်ငံသား** | **စုစုပေါင်း** |
| | ငွေသား | ၀.၂၀၀ | – | ၀.၂၀၀ |
| | မော်တော်ကား(ပြည်ပဝယ်) | ၀.၀၅၀ | – | ၀.၀၅၀ |
| | Operation Machines | ၀.၁၀၀ | – | ၀.၁၀၀ |
| | စက်နှင့်စက်ပစ္စည်း(ပြည်ပ) | ၁.၂၅၀ | – | ၁.၂၅၀ |
| | အဆောက်အဦတန်ဖိုး | ၀.၃၀၀ | – | ၀.၃၀၀ |
| | ကုန်ကြမ်းပစ္စည်း | ၀.၀၉၅ | ၀.၁၀၅ | ၀.၂၀၀ |
| | **စုစုပေါင်း** | ၁.၉၉၅ | ၀.၁၀၅ | **၂.၁၀၀** |
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - **၂၁၀ ဦး** | | |

| | | |
|---|---|---|
| | ပြည်တွင်း | ၂၀၀ ဦး (ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာကျပ် ၁၀၀,၀၀၀ ၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | ၁၀ ဦး (ပြည်ပ အနိမ့်ဆုံးကျွမ်းကျင်သူတစ်ဦး၏ လစာမှာ US$ ၂,၀၀၀၊ အမြင့်ဆုံးလစာမှာ US$ ၄,၀၀၀ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့် နည်းစနစ် | - ၁၀၀ % ပြည်တွင်းရောင်းချခြင်း |
| ၈။ | ၆နှစ်မြောက်တွင် ကုမ္ပဏီ၏ | |
| | ဝင်ငွေ | ကျပ် ၄,၁၃၄.၃၂၃ သန်း |
| | အသုံးစရိတ် | ကျပ် ၃,၇၃၆.၅၂၅ သန်း |
| | အသားတင်အမြတ် | ကျပ် ၃၉၇.၇၉၈ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆ၃မနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၁၃၂.၅၉၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၉၆.၈၇၂ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် |
| | အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၆.၈၅ % |
| | | - ၁ US$ = ၁၀၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| ၁၀။ | နှစ်စဉ်လျှပ်စစ်ဓါတ်အား သုံးစွဲမှု | - ၃၀၀ KVA |
| ၁၁။ | CSR | - လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု(Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | - မီးဘေးကာကွယ်ရေး စီမံချက်အနေဖြင့် စက်ရုံအတွင်း မီးသတ်ပိုက်များထားရှိမည်ဖြစ်ကြောင်း၊ မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ကြောင်း၊ စက်ရုံအတွင်း ဆေးလိပ်သောက်ခြင်းကိုလည်း တားမြစ်ထားပါကြောင်း၊ မီးအချက်ပေးနှင့် အရေးပေါ် ကြေငြာချက်များလည်း တပ်ဆင်ထားမည်ဖြစ်ပါကြောင်း၊ အလုပ်သမားများအား မီးဘေးကာကွယ်ရေး အသိပညာပေးခြင်းနှင့် မီးသတ်သင်တန်းများကိုလည်း တက်ရောက်စေမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | INNO Packaging Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | စက္ကူဘူးအမျိုးမျိုးနှင့် ထုတ်ပိုးပစ္စည်းများ (တိပ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက် အမှတ်(၁၉)၊ အမှတ်(၁) လမ်း၊ ပျဉ်းမပင်စက်မှုဇုန်နယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း ဒေသ ကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၂.၁၀၀ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀ % ပြည်တွင်းရောင်းချခြင်း |
| လုပ်ငန်းသက်တမ်း | - | ၃၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ) |
| အရင်းကြေကာလ | - | ၄ နှစ် |
| IRR | - | ၂၆.၈၅ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၉၂.၆၅၅ သန်း | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၇၀၁.၃၃၄ သန်း |
| ၅ | ဝင်ငွေခွန် | ကျပ် ၅၇၅.၂၃၃ သန်း | ကျပ် ၃၉၇.၇၉၈ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၂၄၉.၇၅၇ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်း (၂၀) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၅၂) ဦး |
| ၈ | CSR ၂ % | | ကျပ် ၅.၁၈၄ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၇၂၈.၈၇၅ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၂၀၀ ဦး<br>ပြည်ပ ၁၀ ဦး<br>ပြည်တွင်းလုပ်သား (၂၀၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၆၆၉.၄၃၆ သန်း** | **ကျပ် ၂,၀၈၄.၁၁၃ သန်း** |
| | | ၁ : ၃ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၃/န-၁၁၇၅/၂၀၁၅ (၆၉၆-၈)

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် INNO Packaging Co., Ltd. တည်ထောင်ကာ စက္ကူဘူးအမျိုးမျိုးနှင့် ထုတ်ပိုးပစ္စည်းများ (တိပ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားသမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော INNO International Co., Ltd. မှ ၉၅% နှင့် မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသောထက်မျိုးဆွေ ကုမ္ပဏီ လီမိတက် မှ ၅% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် INNO Packaging Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ်(၁၉)၊ အမှတ်(၁) လမ်း၊ ပျဉ်းမပင်စက်မှုဇုန်နယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိမြေဧရိယာ ၆.၁၇ ဧက (၂၄၉၈၃ စတုရန်းမီတာ) အားငှားရမ်း၍ စက္ကူဘူးအမျိုးမျိုးနှင့် ထုတ်ပိုးပစ္စည်းများ (တိပ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် နှင့် INNO Packaging Co., Ltd. တို့ ချုပ်ဆိုမည့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အညီပြင်ဆင်ထားသည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ ဖက်စပ်စာချုပ်(မူကြမ်း)၊ အဆောက်အဦဓါတ်ပုံ၊ မြေဆိုင်ရာ အထောက်အထားများနှင့် လုပ်ငန်းတည်နေရာပြ မြေပုံများ၊ မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့်ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း) တို့ကို ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၆.၁၇ ဧက (၂၄,၉၈၃ စတုရန်းမီတာ) ဖြစ်ပြီး အဆောက်အဦပါမြေဧရိယာမှာ ၂,၀၈၆ စတုရန်းမီတာ ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန် ဒေါ်လာ ၁၄၅,၇၇၅ ဖြစ်ပါသည်။ အဆောက်အဦပါ မြေတစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန် ဒေါ်လာ ၁၅ နှုန်းနှင့် အဆောက်အဦမပါမြေ တစ်နှစ်တစ်စတုရန်းမီတာလျှင် အမေရိကန် ဒေါ်လာ ၅ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပြီး တည်ဆောက်မှုကာလမှာ (၁) နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ US$ ၂.၀ သန်း ဖြစ်ပြီး ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US$ (သန်း)

| | နိုင်ငံခြား | နိုင်ငံသား | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၂၀၀ | - | ၀.၂၀၀ |
| စက်နှင့်စက်ပစ္စည်း(ပြည်ပဝယ်) | ၁.၂၅၀ | - | ၁.၂၅၀ |
| မော်တော်ကား(ပြည်ပဝယ်) | ၀.၀၅၀ | - | ၀.၀၅၀ |
| အဆောက်အဦတန်ဖိုး | ၀.၃၀၀ | - | ၀.၃၀၀ |
| ကုန်ကြမ်းပစ္စည်း | ၀.၀၉၅ | ၀.၁၀၅ | ၀.၂၀၀ |
| Operation Machines | ၀.၁၀၀ | _ | _ |
| **စုစုပေါင်း** | **၁.၉၉၅** | **၀.၁၀၅** | **၂.၀၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း (၂၀၀) ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၁၀) ဦး စုစုပေါင်း (၂၁၀) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၂,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော ကုန်ချောပစ္စည်းများကို ပြည်တွင်း၌ ၁၀၀ % ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်) ၏ ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | | ထုတ်လုပ်မှု အရေအတွက် ($m^2$) | ပြည်တွင်း ရောင်းဈေးနှုန်း (US$/ $m^2$) |
|---|---|---|---|---|
| ၁ | 3PLY | | | |
| | Grade | A | ၄,၄၄၃,၁၂၀ | ၀.၃၀ |
| | Grade | B | ၄,၄၄၃,၁၂၀ | ၀.၂၅ |
| ၂ | 5PLY | | | |
| | Grade | A | ၁,၁၁၀,၇၈၀ | ၀.၆၀ |
| | Grade | B | ၁,၁၁၀,၇၈၀ | ၀.၅၅ |
| ၃ | 7PLY | | | |
| | Grade | A | ၂၆၆,၅၈၇ | ၀.၈၀ |
| | Grade | B | ၂၆၆,၅၈၇ | ၀.၇၅ |

ထုတ်လုပ်မည့် ကုန်ချောအမျိုးအစား A တွင် ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်း ၅၀% နှင့် ပြည်တွင်းကုန်ကြမ်း ၅၀% သုံးစွဲမည်ဖြစ်ပြီး ကုန်ချော အမျိုးအစား B တွင်ပြည်ပမှ တင်သွင်းမည့် ကုန်ကြမ်း ၃၀% နှင့်ပြည်တွင်းကုန်ကြမ်း ၇၀%သုံးစွဲမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄,၁၃၄.၃၂၃ |
| (ခ) | အသုံးစရိတ် | ၃,၇၃၆.၅၂၅ |
| (ဂ) | အသားတင်အမြတ် | ၃၉၇.၇၉၈ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၃၂.၅၉၉ သန်း၊ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၉၆.၈၇၂ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၂၆.၈၅ % ဖြစ်ပါသည်။ ငွေလဲလှယ်နှုန်းကို အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းများကို ထိခိုက်နိုင်ခြင်း မရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟုတင်ပြထားပါကြောင်း (၈-၄-၂၀၁၅) ရက်နေ့တွင် ကျင်းပသော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၈/၂၀၁၅)ဆုံးဖြတ်ချက် အပိုဒ် (၁၇) အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင် ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(၁) ကတ်ထူစက္ကူပုံးများ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရန် အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်

ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏ ၂% အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၂) စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီ အစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက်(Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထား မှတ်ချက်နှင့် အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။** **နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းသည် လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံး လုပ်နည်းများနှင့် ညီညွတ်ပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် INNO International Co., Ltd. သည် ၁၅-၁-၂၀၁၅ ရက်နေ့တွင် အမေရိကန်ဒေါ်လာ ၁,၈၅၂, ၉၄၉.၃၄ ရှိကြောင်း နှင့် ထက်မျိုးဆွေကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ စမ်းချောင်းမြို့နယ်၊ ကျွန်းတောလမ်း ကမ္ဘောဇဘဏ်ခွဲ၌ ၂၂-၅-၂၀၁၅ ရက်နေ့တွင် ကျပ် ၄၅,၀၀၁,၀၀၀ နှင့် အမေရိကန်ဒေါ်လာ ၁၀,၂၁၇ ရှိ ကြောင်း တင်ပြထားပါသည်။

၁၂။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** မီးဘေးကာကွယ်ရေး စီမံချက်အနေဖြင့် စက်ရုံအတွင်းမီးသတ်ပိုက်များ ထားရှိမည် ဖြစ်ကြောင်း၊ မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ကြောင်း၊ စက်ရုံအတွင်း ဆေးလိပ်သောက်ခြင်းကိုလည်း တားမြစ်ထားပါကြောင်း၊ မီးအချက်ပေးနှင့် အရေးပေါ်ကြေငြာချက်များလည်း တပ်ဆင်ထားမည် ဖြစ်ပါကြောင်း၊ အလုပ်သမားများအား မီးဘေးကာကွယ်ရေးအသိပညာပေးခြင်းနှင့် မီးသတ်သင်တန်းများကိုလည်း တက်ရောက်စေမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ INNO Packaging Co., Ltd. မှ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းအစီအစဉ်များအတွက် စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေးစသည့် ကိစ္စရပ်များတွင် သုံးစွဲနိုင် ရန်အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % ကို Corporate Social Responsibility အဖြစ် အသုံးပြုမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ်နှင့်တစ်နှစ်လျှင် ဝင်ငွေကျပ်သိန်း(၂၀)နှင့် အထက်ရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများပြင်ဆင် သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်ဘဲ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်းစာရင်းဖြစ်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သောလုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ်၊ မတ်လ ၃ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ၉/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ကိုရီးယားသမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော INNO International Co., Ltd. မှ ၉၅% နှင့် မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသောထက်မျိုးဆွေ ကုမ္ပဏီ လီမိတက် မှ ၅% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် INNO Packaging Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ်(၁၉)၊ အမှတ်(၁) လမ်း၊ ပျဉ်းမပင်စက်မှုဇုန်နယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေဧရိယာ ၆.၁၇ ဧက (၂၄,၉၈၃ စတုရန်းမီတာ) အားငှားရမ်း၍ စက္ကူဘူးအမျိုးမျိုးနှင့် ထုတ်ပိုး

ပစ္စည်းများ (တိပ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိုစွနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

ကန့်သတ်

၇

ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | INNO Packaging Co., Ltd. | INNO International Co., Ltd.<br>(Represented By) | 3F,IL-Dong Bldg, 968-5, Daechi-Dong, Gangnam - gu, Seoul , Korea |
| | | (1) Mr. Seog Chang Son<br>Managing Director<br>Korean<br>P.P No. JG0068874 | 3F,IL-Dong Bldg, 968-5, Daechi-Dong, Gangnam - gu, Seoul , Korea |
| | | (2) Mr. Young Han Kim<br>Director<br>Korean<br>P. P No. M56663913 | 3F,IL-Dong Bldg, 968-5, Daechi-Dong, Gangnam - gu, Seoul , Korea |
| | | (3) Mrs. Min Ji Lee<br>Director<br>Korean<br>P.P No. M84312038 | 3F,IL-Dong Bldg, 968-5, Daechi-Dong, Gangnam - gu, Seoul , Korea |
| | | ထက်မျိုးဆွေကုမ္ပဏီ<br>(Represented By)<br>Incorporated in Myanmar | No.15, Yadanar Mon Lane (1),Ward No.5, Hlaing Township, Yangon Region |
| | | (4) U Myo Lwin<br>Director<br>Myanmar<br>NRC No.12/ LaKaNa (N)030257 | No.224(G),Yadanar Mon Lane (2), Ward No.4, Hlaing Township, Yangon Region |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၅၁၃၆၈၀

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

ကန့်သတ်

| | | |
|---|---|---|
| ၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး | - | ဒေါ်တင်အုန်းကြည် |
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | စက္ကူဘူးအမျိုးမျိုးနှင့် ထုတ်ပိုး ပစ္စည်းများ (တိပ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ | - | - |
| ၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် | - | - |

ပူးတွဲစာတမ်း - ဏ

တိုင်းဒေသကြီး အစိုးရအဖွဲ့ ရုံး
စာအမှတ် ၁၂၃၃
ရက်စွဲ ၁၁/၄/၁၅
ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / သစ်စွမ်း
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

မ-၇၄၄
၁၃/၄

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅. ၃. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ န - ၁၁၇၅ / ၂၀၁၅ (၄၆၆)

၁။ ကိုရီးယားသမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော INNO International Co., Ltd. မှ ၉၅%နှင့် မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသော ထက်မျိုးဆွေကုမ္ပဏီလီမိတက်မှ ၅% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် INNO Packaging Co., Ltd.တည်ထောင်ပြီး မြေကွက်အမှတ်(၁၉)၊ အမှတ်(၁)လမ်း၊ ပျဉ်းမပင်စက်မှုဇုန် နယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၆. ၁၇ ဧက(၂၄၉၈၃ စတုရန်းမီတာ)အား ငှားရမ်း၍ ကတ်ထူစက္ကူပုံးများနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၃၂၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ်(၁၉)၊ အမှတ်(၁)လမ်း၊ ပျဉ်းမပင်စက်မှုဇုန်နယ်မြေ၊ မင်္ဂလာဒုံမြို့နယ်၊ မြေဧရိယာ ၆. ၁၇ ဧက(၂၄၉၈၃ စတုရန်းမီတာ)ရှိ အဆောက်အဦပါမြေကို ၁ စတုရန်းမီတာလျှင် တစ်နှစ်အတွက် USD 15 နှုန်း၊ မြေလွတ်ကို ၁ စတုရန်းမီတာလျှင် တစ်နှစ်အတွက် USD 5 နှုန်းဖြင့် (၃၀+၁၀+၁၀)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/18.,(1)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၈. ၄. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၈/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၇)အရ INNO Packaging Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မင်္ဂလာဒုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
INNO Packaging Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

ပူးတွဲစာတွဲ - ၁

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NDI-8856
10.4.15

စာအမှတ် ၂/၂၂၀(ခ)(၄)( ၂၇၄၁/၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ ဧပြီလ ၆ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-730
22/4

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၃-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက - ၃ / န - ၁၁၇၅ / ၂၀၁၅ ( ၄၆၇ )

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ကိုရီးယားသမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော INNO International Co.,Ltd မှ ၉၅% နှင့် မြန်မာနိုင်ငံတွင်ဖွဲ့စည်းထားသော ထက်မျိုးဆွေ ကုမ္ပဏီလီမိတက် မှ ၅% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် INNO Packging Co., Ltd တည်ထောင်ပြီး မြေကွက်အမှတ် ( ၁၉ ) ၊ အမှတ် ( ၁ ) လမ်း ၊ ပျဉ်းမပင် စက်မှုဇုန်နယ်မြေ ၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ (၆.၁၇) ဧက(၂၄၉၈၃ စတုရန်းမီတာ)အား ငှားရမ်း၍ ကတ်ထူစက္ကူပုံးများနှင့် ဆက်စပ်ပစ္စည်းများထုတ်လုပ်ရောင်းချ ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထား မှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံခွင့်လျှောက်ထားခြင်း၊ ရင်းနှီးမြှုပ်နှံလို သူ၏ အဆိုပြုချက်၊ ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၃၀)ဖြင့် စတင်ဆောင်ရွက်မည်ဖြစ်ပြီး (၁၀)နှစ် ၂ ကြိမ် သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ကြောင်း၊ တည်ဆောက်ပြုပြင်မည့်ကာလမှာ (၁) နှစ်ခန့်ကြာမြင့်မည်ဖြစ်ကြောင်း ၊ မြေငှားစာချုပ်၊ သင်းဖွဲ့မှတ်တမ်း ၊ သင်းဖွဲ့စည်းမျဉ်းများ၊ ဘဏ္ဍာရေးဆိုင်ရာအချက် အလက်များ၊ ထုတ်လုပ်မည့်ကုန်ပစ္စည်းအမျိုးအစား ၊ စက်ရုံပုံစံ၊ အသုံး ပြုမည့်စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းစာရင်း၊ဝန်ထမ်းပေါင်း(၂၁၀)ဦးခန့်ထားဆောင်ရွက်မည် ဖြစ်ပြီး စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေး နှင့် ကျန်းမာရေးအတွက် ဆောင်ရွက် ထားရှိမည့်အစီအစဉ်များ၊ မီးဘေးကာကွယ်ရေးအစီအစဉ်များ၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေ ရန် ဆောင်ရွက်ထားရှိမည့်အစီအစဉ်များ၊ လုပ်ငန်း လည်ပတ်ခြင်းမှရရှိမည့် အသားတင်အမြတ် ငွေမှ ၂% ကို CorporateSocial Responsibility ( CSR ) ရန်ပုံငွေအဖြစ် သုံးစွဲမည်ဖြစ် ကြောင်းဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ပြုပြင်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့် အမှုန်အမွှားများ ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက် နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း ၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ လေထု ၊ မြေထုညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ပါသည်။ လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ထွက်ရှိလာမည့် ကတ်ထူစက္ကူဖြတ်စ/ညှပ်စများနှင့် စွန့်ပစ်အရည် (ရေဆိုးများ) အား စနစ်တကျစွန့်ပစ်ခြင်းမပြုဘဲ ပတ်ဝန်းကျင်ရှိ မြစ် / ချောင်း/ အိုင်များအတွင်းသို့ တိုက်ရိုက်စွန့်ပစ်ပါက မြေထု နှင့် ရေထု ညစ်ညမ်းနိုင်ခြင်း ၊ လုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ INNO Packging Co., Ltd မှ ကတ်ထူစက္ကူပုံးများနှင့် ဆက်စပ်ပစ္စည်းများထုတ် လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ကတ်ထူစက္ကူပုံးများ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း ၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏ (၂%)အား အသုံးပြုရန်အပါ အဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထား ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှုး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

နောက်ဆက်တွဲ-ဂ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

MPT. 2364
23.4.15

စာအမှတ်၊၂၁-စမ (၂)၂၀၁၄-၂၀၁၅(၁၈၅)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

M-756
24/4

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅.၃.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ န-၁၁၇၅/ ၂၀၁၅ (၄၆၈)

၁။ INNO Packaging Co.,Ltd. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုဇုန်နယ်မြေ၊ အမှတ်(၁)လမ်း၊ မြေကွက်အမှတ် (၁၉)တွင် ကတ်ထူစက္ကူပုံးများနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ကတ်ထူစက္ကူပုံးများနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ပထမနှစ်တွင် လူအင်အားခန့်ထားမှု လစာနှုန်းအလိုက် ဖော်ပြထားပြီး ဒုတိယနှစ်မှစ၍ နောက်ပိုင်းနှစ်များတွင် ထုတ်လုပ်မှုပုံမှန် တိုးမြှင့်လာသည်နှင့်အမျှ

လူအင်အားတိုးမြှင့်ခန့်ထားရာတွင် လစာနှုန်းထားတိုးမြှင့် ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ INNO Packaging Co.,Ltd. မှ ကတ်ထူစက္ကူပုံးများနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

**PROPOSAL OF THE PROMOTER TO MAKE INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR**

**TO CARRY OUT THE BUSINESS OF:**

**"MAUFACTURING AND MARKETING OF CARTON BOXES AND RELATED ACCESSORIES"**

**AT PLOT NO – 19,NO.1 STREET,PYINMABIN INDUSTRIAL ZONE ,MINGALADON TOWNSHIP**

**BY**

**"INNO PACKAGING COMPANY LIMITED."**

**MYANMA ECONOMIC HOLDINGS LIMITED**
မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

*Reference No.* ၄/၁/အခရ/ပိုင်(၁၃၁၄ / ၂၀၁၅)

*Date* ၂၀၁၅ ခုနှစ်၊ မေလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ။ **Inno Packaging Company Limited ၏ အဆိုပြုလွှာအား ပြန်လည်ပြင်ဆင်တင်ပြခြင်း**

ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၃-၂၀၁၅ ရက်စွဲပါစာအမှတ် ရက-၃/န-၁၁၇၅/၂၀၁၅ (၄၇၂ - ခ)

(၂) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ ၁၁-၅-၂၀၁၅ ရက်စွဲပါစာအမှတ် ၄/၁/အခရ/ပိုင် (၁၂၁၉/၂၀၁၅)

၁။ Inno Packaging Company Limited ၏ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုဇုန်၊ အမှတ်(၁)လမ်း၊ အကွက်အမှတ် (၁၉)တွင် စက္ကူဗူးအမျိုးမျိုးနှင့် ထုတ်ပိုးပစ္စည်းများ (တိတ်နှင့်ကြိုး) ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းကို လုပ်ဆောင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။ ယင်းအဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ အထက်ရည်ညွှန်းပါစာဖြင့် အဆိုပြုမြေနေရာသည် ယခင်က မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် Myanmar One Co.,Ltd. တို့ ဖက်စပ်ဖွဲ့စည်းတည်ထောင်ထားသည့် Myanmar Nauveau Steel Co.,Ltd. ၏မြေနေရာဖြစ်သည့်အတွက် ယင်းကုမ္ပဏီနှင့်ပတ်သက်သည့် မြေနေရာနှင့် အဆောက်အဦအတွက် Myanmar Nauveau Steel Co.,Ltd. မှ အပြန်ဆုံးရှင်းလင်းအောင်ဆောင်ရွက်ရန်နှင့် လုပ်ငန်းအမျိုးအစားပြင်ဆင်ရန် ညွှန်ကြားခဲ့ပါသည်။

၂။ Inno Packaging Co.,Ltd. ဘက်မှ ကော်မရှင်၏လမ်းညွှန်ချက်နှင့်အညီ လုပ်ငန်းအမျိုးအစားပြင်ဆင်ခြင်းကိစ္စရပ်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။ မြေနေရာ၊ အဆောက်အဦနှင့်ပတ်သက်၍ Myanmar Nouveau Steel Co.,Ltd. သည် အိမ်မိုးသွပ်ပြားများထုတ်လုပ်ဖြန့်ဖြူးရောင်းချသောလုပ်ငန်းကိုလုပ်ကိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်အမှတ် ၂၁၉/၁၉၉၆ (၁၈-၁၂-၁၉၉၆)ဖြင့်ရရှိခဲ့ပါသည်။ လုပ်ငန်း၏နည်းပညာများလိုအပ်ချက်ရှိခြင်း၊ စက်ပစ္စည်းနှင့်ငွေကြေးအင်အားနည်းခြင်း၊ သွပ်ရည်စိမ်သွပ်ပြားထုတ်လုပ်နိုင်ခြင်းမရှိဘဲ သွပ်ပြားဖြတ်တောက်ခြင်းနှင့် လိုင်းဖောက်ခြင်းလုပ်ငန်းကိုသာလုပ်ကိုင်နိုင်သည့်အတွက် ကုမ္ပဏီ၏ထုတ်လုပ်ဖြန့်ဖြူးမှုနှင့် ဝင်ငွေရရှိမှု ကျဆင်းခဲ့ပါသည်။ ထို့ပြင် Myanmar Nouveau Steel Co.,Ltd. နှင့် အလားတူလုပ်ငန်းများသည်လည်း မြန်မာနိုင်ငံ

တွင်များပြားလာသည့်အတွက်ကြောင့် Myanmar Nouveau Steel Co.,Ltd. အား စာရင်းရှင်းလင်းဖျက်သိမ်းရန်အတွက် ၁-၄-၂၀၁၃ ရက်နေ့တွင် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (ရုံးချုပ်)တွင်ပြုလုပ်သော ကုမ္ပဏီ၏အမှုဆောင်များအစည်းအဝေး မှဆုံးဖြတ်ခဲ့ပါသည်။ ထို့ပြင် ကုမ္ပဏီ၏ပုံသေပိုင်ပစ္စည်းများ (စက်လိုင်းများမပါ)ကို တန်ဖိုးသတ်မှတ်ကာ မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်မှ လွှဲပြောင်းရယူခြင်း၊ စိုက်ထုတ်ပေးထားသော မြဝတီဘဏ်မှ ချေးငွေများကို ပြန်လည်ခုနှိမ်ခြင်း၊ နိုင်ငံတော် သို့ပေးသွင်းရမည့် အခွန်အခများကို ပေးသွင်းစေခြင်းတို့အား ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) ငွေစာရင်းရုံးနှင့် စာရင်း စစ်ဆေးရေးအဖွဲ့၏ စစ်ဆေးမှုများကိုခံယူစေခြင်းများကို ဆောင်ရွက်ခဲ့ပြီးဖြစ်ပါသည်။

၃။ ထိုစာရင်းစစ်ဆေးရေးအစီရင်ခံစာကို ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) ငွေစာရင်းရုံးမှ ယခုမေလကုန်ဝန်းကျင်တွင် ထုတ်ပြန်ပေးမည်ဖြစ်ပါကြောင်းနှင့် စာရင်းများရှင်းလင်းဖျက်သိမ်းရန် လုပ်ငန်းစဉ်အဆင့်ဆင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့တင်ပြ၍ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းကို ရည်ညွှန်း (၂)ပါစာဖြင့် တင်ပြခဲ့ပြီးဖြစ်ပါသည်။ (ပူးတွဲ)

၄။ သို့ဖြစ်ပါ၍ Inno Packaging Co.,Ltd. သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏လမ်းညွှန်ချက်များနှင့်အညီ ပြန်လည်ပြင်ဆင်ပြီးဖြစ်ပါ၍ ကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန်ပြင်ဆင်ပြီးအဆိုပြုလွှာအား ပြန်လည် ပေးပို့ တင်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
သန်းထွန်း၊ ဌာနကြီးမှူး
အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို

- ရုံးလက်ခံ/မျှော

MYANMA ECONOMIC HOLDINGS LIMITED
မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397413, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 91, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ၄/၁/အဓရ/ပိုင် ( ၁၂၁၉ / ၂၀၁၅)

Date ၂၀၁၅ ခုနှစ်၊ မေလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

အကြောင်းအရာ ။ ။ **Myanmar Nouveau Steel Co., Ltd. ဖျက်သိမ်းရေး ဆောင်ရွက်နေမှုအခြေအနေ တင်ပြခြင်း**

၁။ မြန်မာနိုဗိုစတီးကုမ္ပဏီလီမိတက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(MIC) ၏ ၁၈-၁၂-၁၉၉၆ ရက်စွဲပါခွင့်ပြုမိန့်အမှတ် ၂၃၉/၉၆ အရ သက်တမ်း ၂၅ နှစ်ဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့် ထိုင်းနိုင်ငံရှိ Myanma One Co., Ltd. တို့က အောက်ပါအတိုင်း အစုရှယ်ယာများထည့်ဝင်၍ ဖက်စပ်ကုမ္ပဏီအဖြစ် ဖွဲ့စည်းတည်ထောင်ခဲ့ပြီး ကုမ္ပဏီမှတ်ပုံတင်အမှတ်မှာ ၂၀/JV/၁၉၉၆-၁၉၉၇၊ ရက်စွဲ ၃-၃-၁၉၉၇ ဖြစ်ပါသည် -

| | | | USD ( သန်း) |
|---|---|---|---|
| (က) | မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် | ၃၅% | ၁. ၆၉ |
| (ခ) | Myanma One Co., Ltd. | ၆၅% | ၂. ၅၂ |
| | စုစုပေါင်း | | ၄. ၂၀ |

၂။ ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်းမှာ USD ၁၂. ၄၀၀ သန်းဖြစ်ပြီး ထည့်ဝင်ပြီးမတည်ငွေမှာ USD ၄. ၁၂၀ သန်းဖြစ်၍ လုပ်ငန်းအားဖြင့် အိမ်မိုးသွပ်ပြားများထုတ်လုပ်ဖြန့်ဖြူးသောလုပ်ငန်းကို လုပ်ကိုင်ပါသည်။ စီးပွားဖြစ်ကို ၂၀၀၄ ခုနှစ်တွင် စတင်ခဲ့ပြီးနောက်ကုမ္ပဏီသည် သွပ်ပြားထုတ်လုပ်မှုဆိုင်ရာ နည်းပညာများ၏ အပ်ချက်ရှိခြင်း၊ စက်ပစ္စည်းများအားနည်းချက်နှင့် ငွေကြေးအင်အားနည်းပါးမှုကြောင့် သွပ်ရည်စိမ်သွပ်ပြားထုတ်လုပ်မှုလုပ်ငန်းအားဆောင်ရွက်နိုင်ခြင်းမရှိဘဲ သွပ်ပြား ဖြတ်တောက်ခြင်းနှင့် လိပ်ဖောက်ခြင်းလုပ်ငန်းကိုသာ လုပ်ကိုင်ဆောင်ရွက်၍ ရပ်တန့်ခဲ့ရပြီး ၂၀၀၈ ခုနှစ် နောက်ပိုင်းအလားတူလုပ်ငန်းများများပြားလာခဲ့ရာ ကုမ္ပဏီ၏ထုတ်လုပ်ဖြန့်ဖြူးမှုနှင့် ဝင်ငွေရရှိမှုကျဆင်းလာခဲ့ပါသည်။

၃။ ထို့အပြင် ဆေးရောင်စုံအိမ်မိုးသွပ်ပြားထုတ်လုပ်ရန်အတွက် မြဝတီဘဏ်လီမိတက်မှချေးငွေရယူ၍ ကုန်ကြမ်းသွပ်ပြားလိပ်များကို ကြိုတင်ဝယ်ယူထားခဲ့ရာ ကမ္ဘာ့စီးပွားရေးကျဆင်းလာမှုကြောင့် ဈေးနှုန်းများ ၅၀% ခန့်ကျဆင်းသွားခဲ့ပါသဖြင့် ငွေကြေးဆုံးရှုံးနစ်နာမှုရှိခဲ့ပါသည်။ မြဝတီဘဏ်ထံမှရယူထားသောချေးငွေ အရင်းနှင့် အတိုးကို ပြည်လည်ပေးဆပ်နိုင်ခြင်းမရှိသဖြင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ၂၀၁၂ ခုနှစ်၊ ဇူလိုင်လတွင် စိုက်ထုတ်၍ပေးဆပ်ခဲ့ရပါသည်။ ပြည်တွင်းသို့သွပ်ရည်စိမ်ပြီး သွပ်ပြားလိပ်များကိုတင်သွင်း၍ ဖြတ်တောက်ခြင်း၊ လှိုင်းဖော်ခြင်းလုပ်ငန်းများသည် တဖြည်းဖြည်းများပြားလာသဖြင့် ပြည်တွင်း၌သွပ်ရည်စိမ်ပြီး ထုတ်လုပ်သည့် လုပ်ငန်းများသည် ရေရှည်တွင်အလားအလာကောင်း မရရှိနိုင်ကြောင်းသုံးသပ်မိပါသဖြင့် မြန်မာနိုင်ငံစိုတီးကုမ္ပဏီ လီမိတက်အား စာရင်းရှင်းလင်းဖျက်သိမ်းရန်အတွက် ၁-၄-၂၀၁၃ ရက်နေ့ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်(ရုံးချုပ်) တွင်ပြုလုပ်သော ကုမ္ပဏီ၏အမှုဆောင်များအစည်းအဝေးမှဆုံးဖြတ်ခဲ့ပါသည်။

၄။ ထို့နောက် ကုမ္ပဏီ၏ပုံသေပိုင်ပစ္စည်းများ(စက်လိုင်းများမပါ)ကို တန်ဖိုးသတ်မှတ်ကာ မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်မှလွှဲပြောင်းရယူခြင်း၊ စိုက်ထုတ်ပေးထားသော မြဝတီဘဏ်ချေးငွေကို ပြန်လည်ခုနှိမ်ခြင်း၊ နိုင်ငံတော် သို့ပေးသွင်းရမည့် ဝင်ငွေခွန်နှင့်ခါတ်အားခများပေးသွင်းစေခြင်းနှင့် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) ငွေစာရင်း ရုံး၊ စာရင်းစစ်ဆေးရေးအဖွဲ့၏ စစ်ဆေးမှုကိုခံယူစေခြင်းများအား ဆောင်ရွက်ခဲ့ပြီးဖြစ်ပါသည်။

၅။ ယခုအခါ စာရင်းစစ်ဆေးမှုအစီရင်ခံစာကို ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ ငွေစာရင်းရုံးမှ ယခုမေလအတွင်းထုတ်ပြန်ပေးရန် ရှိပါကြောင်းနှင့် ထိုအစီရင်ခံစာအရ အခြေပစ္စည်းများရောင်းချဖြတ်စွန်းမှုအပေါ် ကျသင့်သည့်အခွန်ငွေကို သက်ဆိုင်ရာအခွန်ရုံးသို့ အပြန်ပေးဆောင်စေပြီး စာရင်းရှင်းလင်းဖျက်သိမ်းရေးအရာရှိ (Liquidator) သို့လွှဲအပ်၍ ဖျက်သိမ်းမှုကိုအပြန်ပြီးစီးအောင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ရင်းနှီးမြှုပ်နှံမှု နှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနတို့သို့တင်ပြ၍ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါ သည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဒုတိယ ညွှန်ကြားရေးမှူး
ပြည်သူ့ ဝန်ထမ်း၊ ဌာနကြီးမှူး
အထွေထွေအုပ်ချုပ်ရေးဌာနကြီး

မိတ္တူကို
- ရုံးလက်ခံ/မျှော

**MYANMA ECONOMIC HOLDINGS LIMITED**

မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397456, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

*Reference No.* ၄/၁/အခရ/ပိုင် ( ၅၁၄ / ၂၀၁၅)

*Date* ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ။ **INNO Packaging Co.,Ltd. သို့ထုတ်ပိုးပစ္စည်းများနှင့် ယင်းတို့နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြခြင်း**

၁။ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) စစ်ထောက်ချုပ်ရုံးပိုင်ဆိုင်သည့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ပျဉ်းမပင်စက်မှုဇုန်ရှိ မြေဧက ၅၆၀. ၀၆ ဧကအား မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သည် စက်မှုလုပ်ငန်းများဆောင်ရွက်ရန်အတွက် ၂၀၁၃ ခုနှစ်မှစ၍ နှစ် ၆၀ ငှားရမ်းဆောင်ရွက်ခွင့်ရရှိခဲ့ပါသည်။

၂။ အဆိုပါမြေဧရိယာအနက် အမှတ်(၁)လမ်း၊ အကွက်အမှတ် (၁၉)ရှိ အဆောက်အဦပါမြေ ၂၄၉၈၃ စတုရန်းမီတာ (၆. ၁၇ ဧက)ကိုငှားရမ်း၍ ကိုရီးယားသမ္မတနိုင်ငံရှိ INNO International Co.,Ltd. နှင့် မြန်မာနိုင်ငံရှိ ထက်မိုးဆွေကုမ္ပဏီလီမိတက်တို့ပူးပေါင်းကာ ထုတ်ပိုးပစ္စည်းများနှင့် ယင်းတို့နှင့်ဆက်စပ်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို INNO Packaging Co.,Ltd. အမည်ဖြင့် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အတွက် သဘောတူညီမှုရရှိခဲ့ပြီးဖြစ်ပါသည်။

၃။ ယခုအဆိုပြုလုပ်ငန်းအတွက် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ရရှိမည့်မြေငှားရမ်းခမှာ တစ်နှစ်လျှင် အဆောက်အဦပါမြေ ၂၀၈၆ စတုရန်းမီတာကို 15 US$ နှုန်းဖြင့် US$ 31290 နှင့် မြေလွတ်ဧရိယာ ၂၂၈၉၇ စတုရန်းမီတာကို 5 US$ နှုန်းဖြင့် US$ 114485 တို့ဖြင့်စုစုပေါင်း US$ 145775 ကို ရရှိသွားမည်ဖြစ်ပါသည်။

၄။ INNO Packaging Co.,Ltd. ရင်းနှီးမြှုပ်နှံမှုအနေဖြင့် မတည်ငွေ US$ ၂. ၁ သန်းဖြင့်ထည့်ဝင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုသက်တမ်းကို ကနဦးနှစ် ၃၀ နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ်ဖြင့် လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ကော်မရှင်သို့တင်ပြနိုင်ရန် အောက်ပါစာရွက်စာတမ်းများနှင့်တကွ ပူးတွဲတင်ပြအပ်ပါသည်-

(က) အဆိုပြုချက်ပုံစံ Form - 1

(ခ) ရွှေနေချုပ်ရုံး၏သဘောထားမှတ်ချက်အတိုင်းပြုစုထားသည့် မြေငှားစာချုပ်

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း

(ဃ) ဘဏ္ဍာရေးဆိုင်ရာအထောက်အထားများ

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)

သန်းထွန်း၊ ဌာနကြီးမှူး

အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို

- ရုံးလက်ခံ/မျှော

INNO INTERNATIONAL
Head Office : Bucheon Terminal Sopoocong, Sang2-dong, Wonmi-gu, Bucheon-si, Gyeonggi-do, Korea
INNO International CO., LTD - IL-DONG Blg. 968-5 Daechi-dong, Gangnam-gu, Korea Tel 02-3281-5001 / 02-3281-5015

Chairman
Myanmar Investment Commission
Naypyitaw

Date : February 2015
Letter No : 001/MIC/2015

**Subject : Application for investment permit to make investment in "Packaging and Related Product Factory"**

INNO Group from Republic of Korea has made investments in the Republic of the Union of Myanmar in diverse areas such as garment, paper box, golf resort, hotel, residential apartments, etc.

As growing economy and diversified product ranges require good packaging facilities to be competitive in local and export markets, our group has decided to invest in another "Packaging and Related Product Factory" forming a joint venture company namely "INNO Packaging Co., Ltd." with capital contribution of 95% from Inno International Co., Ltd. (incorporated in Korea) and 5% from "Htet Myo Swe Co., Ltd." (incorporated in Myanmar).

For the project, we will lease land with an area of 24983 m2 and building (517' x 517') situated at Plot No. 19, No. 1 Street, Pyinmabin Industrial Zone, Mingaladon Township, Yangon owned by Myanma Economic Holdings Limited on lease basis. In addition to existing building, we will construct another building on the land.

In addition to helping products competitive locally and internationally with packaging facilities, our project will bring forth following benefits:-

| | |
|---|---|
| Commercial tax to State | $6^{th}$ year – US$ 0.2 million |
| Income tax to State | $6^{th}$ Year – Equ: Kyat 100 million |
| Rental to the Lessor | Annual Rent – US$ 145,774/ year |
| Technology transfer | Training local management and technicians |

While our operation will be started with paper carton boxes, we will expand into other packaging products such as plastic tape, tape with printing, and other packaging items by seeking approvals of the Commission time to time.

Following documents are also attached in support of our application:-

| | |
|---|---|
| | Form I |
| Annex A | List of Directors and Executives together with their NRC/Passport copies |
| Annex B | Name of shareholders and shares holding ratio |
| Annex C | Projection statement |

| | |
|---|---|
| Annex D | Draft Land Lease Agreements (Amended according to comment from Attorney General Office) Drawing and Layout |
| Annex E | Protection of Environment |
| Annex F | Labor welfare plan |
| Annex G | Fire Protection |
| Annex H | References for business and financial standing |
| Annex I | Draft Joint Venture Agreement |

Together with application for investment permit, we are applying for exemptions and relief specified in Section 27 of the Union of Myanmar Foreign Investment Law covering the following;

(a) income tax exemption for a period of five consecutive years including the year of commencement on commercial scale to any business for the production of goods or services, moreover, in case where it is beneficial to the Union, income tax exemption orrelief for suitable period depending upon the success of the business in which investment is made;

(b) exemptions or reliefs from income tax on profits of the business if they are maintained for reinvest-ment in a reserve fund and re□invested therein within 1 year after the reserve is made;

(c) right to deduct depreciation from the profit, after computing as the rate of deducting depreciation stipulated by the Union, in respect of machinery, equipment, building or other capital assets used in the business for the purpose of income tax assessment;

(d) if the goods produced by any manufacturing business are exported, relief from income tax up to 50 percent on the profits accrued from the said export;

(e) right to pay income tax on the income of foreigners at the rates applicable to the citizens residing with in the Union;

(f) right to deduct expenses from the assessable income, such expenses incurred in respect of research and development relating to the business which are actually required and are carried out within the Union;

(g) right to carry forward and set-off the loss up to 3 consecutive years from the year the loss is actually sustained within 2 years following the enjoyment of exemption or relief from income tax as contained in sub-section (a), for each business;

(h) exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business;

(i) exemption or relief from customs duty or other internal taxes or both on raw materials imported for production for the first three-year after the completion of construction of business;

(j) if the volume of investment is increased with the approval of the Commission and the original investment business is expanded during the permitted period, exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery

components,spare parts and materials used in the business which are imported as they are actually required for use in the business expanded as such;

(k) exemption or relief from commercial tax on the goods produced for export;

Faithfully yours,

Mr Seog Chang Son
The Promoter

components,spare parts and materials used in the business which are imported as they are actually required for use in the business expanded as such;

(k) exemption or relief from commercial tax on the goods produced for export;

Faithfully yours,

Mr.Seog Chang Son
The Promoter

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

ပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

PROPOSAL OF THE PROMOTER TO MAKE

FROREIGN INVESTMENT IN THE

REPUBLIC OF THE UNION OF MYANMAR

**Form (I)**

## PROPOSAL OF THE PROMOTER TO MAKE FOREIGN INVESTMENT IN THE UNION OF MYANMAR

To

Chairman,
Myanmar Investment Commission,

*Reference No.Inno/MIC/2015(002)*
*Date February 2015*

I wish to make investment in the Union of Myanmar in accordance with the Union of Myanmar Foreign Investment Law, and I herewith apply for permission furnishing the following particulars-

1. Promoter's -

| | | |
|---|---|---|
| *(a)* | Name | Mr.Son, Seog Chang |
| *(b)* | Father's name | Mr.Son, Jeong Geun |
| *(c)* | ID No./ National registration Card No./ Passport No. | JG0068874 |
| *(d)* | Citizenship | Republic of Korea |
| *(e)* | Address | |
| | (i) Address in Myanmar | |
| | (ii) Residence abroad | 539-1,Sangdong,Wonmigu,Bucheon-si, Gyeonggi-do, Korea |
| *(f)* | Name of principal organization | INNO International Co.,Ltd |
| *(g)* | Type of business | Wholesale & Retail trade |
| *(h)* | Principal company's address | 3F,IL-DongBldg, 968-5, Daechi- Dong,Gangnam - gu,Seoul,Korea. |

2. If investment is to be made by joint-venture, the particulars of the persons wishing to participate in the Joint-Venture with the promoter-Partner 1

| | | |
|---|---|---|
| *(a)* | Name | U Myo Lwin |
| *(b)* | Father's name | U Khin Maung Nyunt |
| *(c)* | ID No./ National registration Card No./ Passport No. | 12/LaKaNa (N) 030257 |
| *(d)* | Citizenship | Myanmar |
| *(e)* | Address | |
| | (i) Address in Myanmar | No. 224 (G), Yadanar Mon Lane (2), Ward No. 4, Hlaing Township, Yangon Region. |
| | (ii) Residence abroad | |

(f) Name of principal organization — Htet Myo Swe Co., Ltd.

(g) Type of business — Services, Construction, Manufacturing, Trading

(h) Principal company's address — No. 15, Yadanar Mon Lane (1), Ward No. 4, Hlaing Township, Yangon Region.

Remark: The following documents need to attach according to above paragraph (1) and (2).

(1) Company Registration Certificate (Copy);
(2) National Registration Card (Copy) and Passport (Copy);
(3) Evidence about the business and financial conditions of the participant of the participants of the proposed investment business.

3. Type of business in which investment is to be made-

(a) Production — **Manufacturing and Marketing of Carton Boxes and Packaging Accessories (Tape and String)**

(b) Services business related with manufacturing — ______

(c) Services — ______

(d) Others — ______

Remark: Expression about the nature of business with regard to the above paragraph (3).

4. Type of business organization to be formed-

(a) One hundred Percent — ______

(b) Joint venture

(i) Foreigner and Citizen: — INNO Packaging Co., Ltd.
- INNO INTERNATIONAL CO., LTD. (Incorporated in Korea) 95%
- Htet Myo Swe Co., Ltd. (Incorporated in Myanmar) 5%

(ii) Foreigner and Government Department/ Organization: — ______

(c) By contractual basis

(i) Foreigner and Citizen: — ______

(ii) Foreigner and Government Department/ Organization: — ______

Remark: The following information needs to attach for the above paragraph (4):-

(i) Share ratio for the authorized capital from abroad and local, names, citizenship, addresses, and occupations of directors;

(ii) Joint-Venture Contract (Draft) and recommendation of the Union Attorney General Office if the investment is related with the State.

**(iii)** Contract (Agreement) (draft)

5. Particulars relating to company incorporation-

| | | |
|---|---|---|
| *(a)* | Authorized capital | US$ 4,000,000 |
| *(b)* | Types of shares | An ordinary share (US$ 1000/ share) |
| *(c)* | Number of shares | 4,000 shares |

Remark: Memorandum of Association and Articles of Association of the Company shall be submitted with regard to above paragraph 5.

6. Particulars relating to capital of the investment permit-

| | | ***Equity*** <br> *Equ: US$* |
|---|---|---|
| *(a)* | Amount of local capital to be contributed | 105,000 |
| *(b)* | Amount of foreign capital to be brought in | 1,995,000 |
| | Total | 2,100,000 |

| | | |
|---|---|---|
| *(c)* | Annually or period of proposed capital to be brought in | During construction period |
| *(d)* | Last date of capital brought in | After get the MIC Permit (Within 1 year) |
| *(e)* | Proposed duration of investment | 30 years renewal for another 2 ten years term |
| *(f)* | Commencement date of construction | As soon as receiving MIC permit |
| *(g)* | Construction period | 1 years |

**Remark: Describe with annexure if it is required for above Para 6(c).**

7. Details of foreign capital to be brought in-

| Sr. | Particulars | Equity <br> US$ |
|---|---|---|
| 1 | Machines | 1,250,000 |
| 2 | Vehicles | 50,000 |
| 3 | Operation machines | 100,000 |
| 4 | Working capital | 200,000 |
| 5 | Building | 300,000 |
| 6 | Revolving for raw material | 95,000 |
| | | 1,995,000 |

**Remark: The value of permission shall be submitted for the above para (e) and (f).**

8. Details of local capital to be contributed --

*Equ; US$*

| | | |
|---|---|---|
| *(a)* | Amount of cash | |
| *(b)* | Value of machineries and equipment<br>(to enclose detail statement) | |
| *(c)* | Rental building for building/land | |
| *(d)* | Cost of building construction | |
| *(e)* | Value of furniture and asset<br>(to enclose detail statement) | |
| *(f)* | Value of initial raw materials requirement<br>(to enclose detail statement) | 105,000 |
| *(g)* | Others | |
| | Total | 105,000 |

9. Particulars about the investment business-

| | | |
|---|---|---|
| *(a)* | Investment location/ places | Plot No. 19, No.1 Street, Pyinmabin Industrial Zone, Mingaladon township, Yango region. |
| *(b)* | Type and area requirement for land or land and building | |
| | (i) Location | Plot No. 19, No.1 Street, Pyinmabin Industrial Zone, Mingaladon township, Yango region. |
| | (ii) Number of land/ building and area | -Uncovered 22,897 m2<br>-Covered 2,086 m2<br>Total 24,983 m2 |
| | (iii) Owner of the land | |
| | (aa) Name/ Company/ Department | Myanma Economic Holdings Limited |
| | (bb) National Registration Card No. | |
| | (cc) Address | No.189/191, Mahabandoola street, Botataug township, Yangon. |
| | (iv) Type of land | Grant |
| | (v) Period of Grant | 60 years |
| | (vi) Lease period | 30 years renewal for another 2 ten years term |
| | (vii) Lease rate | |
| | (aa) Land | Uncovered - US$ 5/m2 |

